၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂.၈၀၉ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | US$ (သန်း) |
|---|---|
| ငွေသား | ၂.၆၀၀ |
| စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၁၂၇ |
| ရုံးသုံးပစ္စည်း (ပြည်တွင်း) | ၀.၀၂၂ |
| မော်တော်ယာဉ် (ပြည်တွင်း) | ၀.၀၆၀ |
| **စုစုပေါင်း** | **၂.၈၀၉** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၃၅ ဦး နှင့် ပြည်ပ ဝန်ထမ်း ၁၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာUS$ ၁,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၃၀၀ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော 214-Sulfonyl Chloride (Photosensitive Powder) များအား ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှု (MT)** | **ရောင်းဈေးနှုန်း (US$/MT)** |
|---|---|---|
| 214-Sulfonyl Chloride (Photosensitive Powder) | ၅၀ | ၇၁,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **စက်မှုဝန်ကြီးဌာန**မှ ပြည်တွင်းသို့ တင်သွင်းမည့် ဓါတုပစ္စည်း (၁၂) မျိုးအနက် Hydrochloric Acid, Thionyl Chloride နှင့် Acetone တို့သည် ထိန်းချုပ်ဓါတုပစ္စည်းများဖြစ်၍ ယင်းထိန်းချုပ်ဓါတုပစ္စည်းများအား ထုတ်လုပ်မှု လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြည်တွင်းသို့ တင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ထိန်းသိမ်းခြင်းနှင့်လက်ဝယ်ထားပြီး အသုံးပြုခြင်းစသည့် လုပ်ငန်းများဆောင်ရွက်မည်ဆိုပါက ပြည်ထဲရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသည့် "ထိန်းချုပ်ဓါတုပစ္စည်းကြီးကြပ်ရေးဆိုင်ရာ နည်းဥပဒေများ" ပါ ပြဋ္ဌာန်းချက်များကို လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ၁၅-၁၁-၂၀၁၈ နေ့တွင် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာနမှ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့** ဓါတုပစ္စည်းများကို အသုံးပြုပြီး ထုတ်လုပ်မည့် **214-Sulfonyl Chloride (Photosensitive Powder) သည် အန္တရာယ်ရှိကုန်ပစ္စည်း (Dangerous Good) ဖြစ်၍ ကုလသမဂ္ဂ အန္တရာယ်ရှိ ကုန်ပစ္စည်းများသယ်ယူပို့ဆောင်ရေးဆိုင်ရာ အမှတ်တံဆိပ်များ (UNRTDG) နှင့်အညီ ဓါတုပစ္စည်းများ၏ အန္တရာယ်အမျိုးအစားအလိုက် အမှတ်တံဆိပ်များကို သယ်ယူပို့ဆောင်သော ယာဉ်နှင့် ကုန်သေတ္တာများတွင် အသုံးပြုဖော်ပြရမည်ဖြစ်သည့်အပြင် ကုန်းလမ်းနှင့် ပြည်တွင်း**

ရေကြောင်း သယ်ယူပို့ဆောင်ရေး လုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများ၊ အမိန့်နှင့်ညွှန်ကြားချက်များကိုလည်း လိုက်နာ ဆောင်ရွက်ရမည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပြီးဖြစ်ပါသည်။

၉။ **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန**မှ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီ ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့အားရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပြီးဖြစ်ပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် ၁၀-၉-၂၀၁၈ ရက်နေ့တွင် ICBC ၌ Mr. Zhang Chengfang သည် US$ ၁၇၀,၀၀၀၊ Mr. Zhang Chengbiao သည် US$ ၁၅၀,၀၀၀ ရှိကြောင်းနှင့် China Merchants Bank ၌ Mrs. Li Jinchun သည် US$ ၆၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီမှ 214-Sulfonyl Chloride (Photosensitive Power) ထုတ်လုပ်ခြင်းလုပ်ငန်းတွင် 2T/H Single-stage reverse osmosis desalination treatment device အသုံးပြုကာ ညစ်ညမ်းသည့်ရေကို RO Desalination treatment စနစ်ဖြင့် ရေကိုသောက်သုံးနိုင်သည် အထိ သန့်စင်သွားမည်ဖြစ်ပါကြောင်း၊ စက်ရုံမှထွက်ရှိလာသော အငွေ့ကို Exhaust gas treatment စနစ်ပါသောစက်ဖြင့် နောက်ဆုံးသန့်စင်သောလေထုအဖြစ် လုပ်ဆောင်သွားမည်ဖြစ်ပါကြောင်း၊ လူမှုဘဝသာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုမည်ဖြစ်ကြောင်းနှင့် ထုတ်လုပ်မှုဖြစ်စဉ်၊ ကုန်ကြမ်းသိုလှောင်ထားရှိမည့်အစီအစဉ်များကို တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်သော်လည်း ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်သည့်အတွက် နိုင်ငံခြားသား ရာခိုင်နှုန်းပြည့် ခွင့်ပြုဆောင်ရွက်နိုင်သည့် လုပ်ငန်း ဖြစ်ပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆ (ဂ) အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည် ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက်တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပါသည်။

(ဃ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ကျင်းပပြုလုပ် ၃၂/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ပြီး ဖြစ်ပါသည်။

(င) ပြည်ပမှ တင်သွင်းမည့် ထုတ်လုပ်မှုနှင့် Treatment ဆိုင်ရာ စက်ပစ္စည်းများ၏ အသေးစိတ်စာရင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှုလျော့ချရေး အစီအမံများ ရေးဆွဲတင်ပြထားပါသည်။

(စ) ထွက်ရှိလာသည့် Photosensitive Powder ကို **မိတ္တူကူးစက်နှင့် ပုံနှိပ်ခြင်းလုပ်ငန်းတို့တွင် အသုံးပြုမည်ဖြစ်ပြီး** တရုတ်ပြည်သူ့သမ္မတနိုင်ငံသို့ ၁၀၀ % တင်ပို့သွားမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Company Limited မှ 214-Sulfonyl Chloride (Photosensitive Powder) ထုတ်လုပ်ခြင်းလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



Sino (MIC memo)

တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့
စာအမှတ်၊ ရက-၁/၃/၄ (အီးအိုင်အေ) (၁၃၀၄ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်

သို့

အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **Myanmar Sinochem Industry Co, Ltd; ၏ 214- Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်း လုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၁၇-၉-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ရကတ/ ရနမ - ၂/ ၂၀၁၈ (၅၁၉)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Co, Ltd; မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း) မြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်၊ မြေကွက်အမှတ် (၁၂၆) တွင် 214- Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ အပိုဒ် ၇၁၊ ၇၂ (ခ) တို့ အရ လက်ခံခြင်း၊ ငြင်းပယ်ခြင်းနှင့် အတည်ပြုမိန့် ထုတ်ပေးနိုင်ရေး အတွက် စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် သက်တမ်းမှာ (၇) နှစ်ဖြစ် ပြီး အဆောက်အအုံငှားရမ်း/ အသုံးပြု ခွင့်မှာ (၇) နှစ် ဖြစ်ကြောင်း၊

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ (၆) ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၀၃၃၄၈၀၁၅၆ ဖြင့် ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းအား မြေဧရိယာ ၁.၉၆၉ ဧက (၇, ၉၆၈.၂၆ စတုရန်းမီတာ) ပေါ်တွင် ၁, ၃၃၇.၁၈၂ စတုရန်းမီတာ ရှိသော စက်ရုံအဆောက်အဦး (၁) လုံးအား ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများဖြစ်သော Hydrochloric Acid၊ Sodium Hydrosulfite၊ Chlorosufonic Acid တို့ကို အများဆုံး အသုံးပြုမည်ဖြစ်ကြောင်း၊ အခြားသော ကုန်ကြမ်းများကိုလည်း အသုံးပြုမည်ဖြစ်ကြောင်း၊ အဆိုပါကုန်ကြမ်း ပစ္စည်းများကို တရုတ်နိုင်ငံမှ တင်သွင်းသွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် စက်ပစ္စည်းတို့ကို အဓိကအားဖြင့် တရုတ်နိုင်ငံမှ တင်သွင်းသွားမည်ဖြစ်ပြီး ကုန်ချောပစ္စည်းများကို (၁၀၀) ရာခိုင်နှုန်း တရုတ်နိုင်ငံသို့ တင်ပို့ သွားမည် ဖြစ်ကြောင်း၊

(စ) ထုတ်လုပ်မှုအနေဖြင့် တစ်ရက်လျှင် မက်ထရစ်တန် (၂၃၆.၆၇) ဖြင့် ပထမနှစ်တွင် 214- Sulfonyl Chloride (Photosenstive Power) မက်ထရစ်တန် (၇၁, ၀၀၀) မှ (၇) နှစ် အတွင်း မက်ထရစ်တန် (၈၀, ၀၀၀) ထုတ်လုပ်သွားမည် ဖြစ်ကြောင်း၊

(ဆ) မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်များကိုလည်း စနစ်တကျရေးဆွဲ၍ ဝန်ထမ်းများအား ပညာပေးအစီအစဉ်များနှင့် သင်တန်းများပို့ချခြင်းတို့ကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဇ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ စက်ရုံမှ ထွက်ရှိလာသော အခိုးအငွေ့များ၊ စွန့်ပစ်ရေများအတွက် Pollution Generation Process ၊ Waste Gas Treatment Plan များကို ရေးဆွဲထားရှိပြီး အကောင်အထည် ဖော်ဆောင်ရွက် သွားမည်ဖြစ်ကြောင်း၊

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) အဆိုပြုလုပ်ငန်းတွင် အဓိကအသုံးပြုမည့် Hydrochloric Acid နှင့် အခြားသော ဓာတုပစ္စည်းများသည် ဘေးအန္တရာယ်ရှိ ဓာတုပစ္စည်းဖြစ်ပါသဖြင့် လေထု၊ ရေထု၊ မြေထုထဲသို့ ရောက်ရှိပါက လူသားများ၊ အပင်များ၊ တိရစ္ဆာန်များနှင့် ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းလည်ပတ်ခြင်းအဆင့်ဆင့်မှ ထွက်ရှိလာသော ဓာတ်ငွေ့များနှင့် စွန့်ပစ်ရေဆိုးများသည် ပတ်ဝန်းကျင်နှင့် စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း၊

(ဂ) အဆိုပါလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်နေသော လုပ်ငန်းခွင်အတွင်းမှ အလုပ်သမားအနေဖြင့် အဆိုပါဘေးအန္တရာယ်ရှိ ဓာတုပစ္စည်းများ အမြဲထိတွေ့နေရမည် ဖြစ်သောကြောင့် ရေရှည်တွင် မျက်စိ၊ အရေပြား၊ အမြေးပါးများ ထိခိုက်စေနိုင်ခြင်းနှင့် ၎င်းတို့ကို ရှူရှိုက်မိ ခြင်းကြောင့် အသက်ရှူလမ်းကြောင်းဆိုင်ရာရောဂါများ၊ အဆုတ်နှင့်ဆိုင်သော ရောဂါများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ခြင်းမှထွက်ရှိလာသည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ပြီး စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

၄။ သို့ဖြစ်ပါ၍ Myanmar Sinochem Industry Co, Ltd; ၏ 214 - Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့်နည်းစနစ်များကို အသုံးပြုရန်နှင့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Cooperate Social Responsibility - CSR) အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်း ကို အသုံးပြုခြင်းအား အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) 214 - Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီ ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်အလက်များ အပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ရေးဆွဲရန်၊

(စ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတွင် လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ စီမံကိန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမှုရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဆ) လုပ်ငန်းအဆင့်တိုင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများ၊ အခိုးအငွေ့များကို အမျိုးသား ပတ်ဝန်းကျင်အရည်အသွေး (ထုတ်လွှတ်မှု) စံချိန်စံညွှန်း လမ်းညွှန်ချက်များတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းနှင့်အညီ စနစ်တကျ သန့်စင်စွန့်ပစ်သွားရန်၊

(ဇ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတင်ပြရာတွင် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပူးတွဲတင်ပြရန်၊

(ဈ) စီမံကိန်း ဆောင်ရွက်မည့် လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) အစီရင် ခံစာရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ည) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

ခင်သီတာတင်
၁/၁၀/၂၀၁၈

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ၊ မျှောစာတွဲ

စာအမှတ် ၁၆၃၁/၁၈

ရက်စွဲ ၁၈.၉.၁၈


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

မြေကွက်အမှတ် ၄၉၊ စိမ်းလဲ့မေ လမ်းသွယ်၊

ကမ္ဘာအေးဘုရားလမ်း၊ ၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၂၆၃

🖷 ၀၁-၆၅၈၂၆၄


စာအမှတ်၊ရကတ/ရနမ-၂ /၂၀၁၈ ( ၅၁၉ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၁၇ ရက်

သို့

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အပေါ် သဘောထား ပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ Myanmar Sinochem Industry Co.,Ltd ၏ ၁၂-၉-၂၀၁၈ ရက်စွဲပါ စာ

၁။ ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Co.,Ltd မှ မြေကွက်အမှတ် (၁၂၆) ၊ မြေတိုင်းရပ်ကွက်အမှတ် စက်မှုဇုန် ၊ ဒဂုံမြို့သစ်ဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် 214-Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း ရည်ညွှန်းပါစာဖြင့် တင်ပြလာပါ သည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ -၇၁ အရ အတည်ပြုလွှာ အား လက်ခံခြင်း၊ ငြင်းပယ်ခြင်းကို အလုပ်လုပ်ရက် ၁၅ ရက်အတွင်း ရင်းနှီးမြှုပ်နှံသူ ထံသို့ ပြန်ကြားရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ -၇၂(ခ)အရ အတည်ပြုလွှာအား လက်ခံသည့် နေ့ရက်မှ ရက်ပေါင်း ၃၀ အတွင်း အတည်ပြုမိန့် ထုတ်ပေးရန်ဖြစ်ပါ၍ ပူးတွဲပါ အတည်ပြုလွှာနှင့် ပတ်သက်၍ မည်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် ဆောင်ရွက်ရမည်ကို **ဆောလျင်စွာ** ပြန်ကြားပေးနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

၃။ Myanmar Sinochem Industry Co.,Ltd နှင့် စပ်လျဉ်း၍ ဆက်သွယ်ဆောင်ရွက်ရမည့် ပုဂ္ဂိုလ် မှာ ဒေါ်ပန်းအိဖြူ ဖုန်းနံပါတ် ၀၉-၂၀၂၉၄၉၄၊ ၀၉-၉၇၈၇၉၆၀၉၅ဖြစ်ပါသည်။

**ပူးတွဲ-အတည်ပြုလျှောက်ထားလွှာ (၁) စုံ**

မျိုးခိုင်ဦး၊ အတွင်းရေးမှူး

မိတ္တူကို

Myanmar Sinochem Industry Co.,Ltd

ရုံးလက်ခံ/မျှောစာတွဲ

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃- စမ( ၂ ) ၂၀၁၈-၂၀၁၉( ၅၁၇ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၁၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၁၀.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၃ / ခ - ၀၂၉ / ၂၀၁၈ ( ၁၈၉ )

၁။ Myanmar Sinochem Industry Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်- စက်မှုဇုန်၊ မြေကွက်အမှတ်-၁၂၆ရှိ မြေ( ၁.၉၆၉ ) ဧကတွင် 214-Sulfonyl Chloride (Photosensitive Powder) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် စက်ပစ္စည်းများနှင့် ရေဆိုးသန့်စင်ခြင်း (Waste Water Treatment) တို့တွင် အသုံးပြုမည့် စက်ပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှု ရှိ/မရှိ၊ ပြည်ပမှတင်သွင်းမည့် ဓာတုကုန်ကြမ်းပစ္စည်းများသည် လုပ်ငန်းအတွက်သင့်လျော်မှုရှိ/မရှိ စက်မှုဝန်ကြီးဌာနမှ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါ လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) တင်သွင်းမည့် စက်ပစ္စည်း(Equipment)များမှာ ထုတ်လုပ်မှုနည်းစဉ်နှင့်သင့်လျော်မှုရှိပြီး အသုံးပြုရန်တင်ပြထားခြင်း၊ သဘာဝပတ်ဝန်းကျင်အားဆိုးရွားစွာ ထိခိုက်မှု ဖြစ်နိုင်ချေနည်းပါးခြင်း။

( ခ ) ကုမ္ပဏီသည် ဓာတုပစ္စည်းများအား ပြည်တွင်းသို့ တင်သွင်းခြင်း၊ အသုံးပြုခြင်း၊ ထုတ်လုပ်ခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ လက်ဝယ်ထားရှိခြင်း၊ ပြည်ပသို့တင်ပို့ခြင်းစသည့် လုပ်ငန်းများဆောင်ရွက်မည်ဖြစ်သဖြင့် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဗဟိုကြီးကြပ်ရေးအဖွဲ့သို့ "ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ" ပုဒ်မ ၁၃ အရ လုပ်ငန်းလိုင်စင်လျှောက်ထားရမည်ဖြစ်ပြီး ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများအန္တရာယ်မှတားဆီးကာကွယ်ရေးဥပဒေ ပုဒ်မ ၂၀ အရ မိမိလုပ်ငန်းတွင်အသုံးပြုမည့် ဓာတုပစ္စည်းများကိုမှတ်ပုံတင်ရန် မှတ်ပုံတင်လက်မှတ်လျှောက်ထားရမည်ဖြစ်ပါသည်။

(ဂ) ပြည်တွင်းသို့ တင်သွင်းမည့် ဓာတုပစ္စည်း (၁၂)မျိုးအနက် Hydrochloric Acid, Thionyl Chloride နှင့် Acetone တို့သည် ထိန်းချုပ်ဓာတုပစ္စည်းများဖြစ်၍ ယင်းထိန်းချုပ်ဓာတုပစ္စည်းများအား ထုတ်လုပ်မှုလုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြည်တွင်းသို့ တင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ထိန်းသိမ်းခြင်းနှင့် လက်ဝယ်ထားပြီးအသုံးပြုခြင်းစသည့် လုပ်ငန်းများ ဆောင်ရွက်မည်ဆိုပါက ပြည်ထဲရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသည့် "ထိန်းချုပ်ဓာတုပစ္စည်းကြီးကြပ်ရေးဆိုင်ရာ နည်းဥပဒေများ"ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်ဖြစ်ပါသည်။

(ဃ) ပြည်တွင်းသို့ တင်သွင်းမည့် ဓာတုပစ္စည်း(၁၂)မျိုးကို အသုံးပြုပြီး ထုတ်လုပ်မည့် 214 Sulfonyl Chloride သည် အန္တရာယ်ရှိ ကုန်ပစ္စည်း( Dangerous Goods ) ဖြစ်၍ အဆိုပါ အန္တရာယ်ရှိကုန်ပစ္စည်းများကို ပြည်တွင်းတွင်သယ်ယူပို့ဆောင်မည်ဆိုပါက "ကုလသမဂ္ဂ အန္တရာယ်ရှိကုန်ပစ္စည်းများ သယ်ယူပို့ဆောင်ရေးဆိုင်ရာ အကြံပြုချက်များ (UNRTDG)" နှင့်အညီ ဓာတုပစ္စည်းများ၏ အန္တရာယ်အမျိုးအစားအလိုက် အမှတ်တံဆိပ်များကို သယ်ယူပို့ဆောင်သောယာဉ်နှင့်ကုန်သေတ္တာများတွင် အသုံးပြုဖော်ပြရမည်ဖြစ်သည့်အပြင် ကုန်းလမ်းနှင့် ပြည်တွင်းရေကြောင်း သယ်ယူပို့ဆောင်ရေးလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများ၊ အမိန့်နှင့်ညွှန်ကြားချက်များကိုလည်း လိုက်နာရမည်ဖြစ်ပါသည်။

(င) အဆိုပါ လုပ်ငန်းသည် ဓာတုပစ္စည်းထုတ်လုပ်ခြင်း လုပ်ငန်းကဏ္ဍဖြစ်သည့်အတွက် မိမိလုပ်ငန်းမှ ထွက်ရှိသော စွန့်ထုတ်အရည်နှင့် စွန့်ထုတ်အခိုးအငွေ့ အဆင့်သတ်မှတ်ချက်များသည် "အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်(၂၀၁၅)"ပါ သတ်မှတ်ချက်များနှင့် ကိုက်ညီရမည်ဖြစ်ပါသည်။

၃။ သို့ပါ၍ Myanmar Sinochem Industry Company Limited မှ 214-Sulfonyl Chloride (Photosensitive Powder) ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် အသုံးပြုမည့်စက်ပစ္စည်းများ၊ ရေဆိုးသန့်စင်ခြင်း (Waste Water Treatment) တို့တွင် အသုံးပြုမည့်စက်ပစ္စည်းများနှင့် ပြည်ပမှတင်သွင်းမည့် ဓာတုကုန်ကြမ်းပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှုရှိသော်လည်း အထက်ဖော်ပြပါလိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
မျှောစာတွဲ
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန
## စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန

စာအမှတ်၊ ၁၅၀၁(၁)/စမရ(၄)/၂၀၁၈( ၆၀၄ )
ရက်စွဲ ၊၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၁၇-၉-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ရကတ/ရနမ-၂/၂၀၁၈(၅၂၀)

၁။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Co.,Ltd. မှ ရန်ကုန်တိုင်းဒေသကြီးတွင် 214-Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းအပေါ် အတည်ပြုလွှာတွင် ပါဝင်သော ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပါ အတည်ပြုလွှာတွင်ပါဝင်သော ပြည်ပမှ တင်သွင်းမည့် ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်း (၁၂) မျိုးတွင် Neville and Winter's acid, Sodium Hydroxide, Sodium Nitrite, Sodium Hydrosulfite, Copper II Sulfate Pentahydrate, Chlorosulfonic Acid, Phosphorus Trichloride, Petroleum Ether, Ethyl Alcohol Absolute တို့မှာ သာမန်ဓာတုပစ္စည်းများဖြစ်ပါသည်။ Hydrochloric Acid, Thionyl Chloride နှင့် Acetone တို့မှာ ထိန်းချုပ်ဓာတုပစ္စည်းများဖြစ်၍ အဆိုပါ ထိန်းချုပ်ဓာတုပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဆိုပါက ထိန်းချုပ်ဓာတုပစ္စည်းကြီးကြပ်ရေးကော်မတီ၏ ထောက်ခံချက်ရယူပြီးမှသာ တင်သွင်းရမည်ဖြစ်ပါသည်။

၃။ Myanmar Sinochem Industry Co.,Ltd. မှ အထက်အပိုဒ်(၂)ပါ ဓာတုပစ္စည်းများကို အသုံးပြုပြီး ထုတ်လုပ်မည့် 214-Sulfonyl Chloride သည် အန္တရာယ်ရှိကုန်ပစ္စည်း (Dangerous Good)ဖြစ်၍ အဆိုပါ အန္တရာယ်ရှိ ကုန်ပစ္စည်းကို ပြည်တွင်းတွင် သယ်ယူပို့ဆောင်မည်ဆိုပါက ကုလသမဂ္ဂအန္တရာယ်ရှိကုန်ပစ္စည်းများ သယ်ယူပို့ဆောင်ရေးဆိုင်ရာ အမှတ်

လိပ်စာ - ရုံးအမှတ်(၃၀)၊ ဇေယျာဌာနီလမ်း၊ နေပြည်တော်။ တယ်လီဖုန်း - ၀၆၇-၄၀၅၃၂၄ ၀၆၇-၄၀၅၃၃၄ ဖက်စ် - ၀၆၇-၄၀၅၀၅၂

တံဆိပ်များ (UNRTDG)နှင့်အညီ ဓာတုပစ္စည်းများ၏ အန္တရာယ်အမျိုးအစားအလိုက် အမှတ်တံဆိပ်များကို သယ်ယူပို့ဆောင်သော ယာဉ်နှင့်ကုန်သေတ္တာများတွင် အသုံးပြုဖော်ပြရမည်ဖြစ်သည့်အပြင် ကုန်းလမ်းနှင့် ပြည်တွင်းရေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများ၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလည်း လိုက်နာရမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Sinochem Industry Co.,Ltd. အနေဖြင့် ပူးတွဲအတည်ပြုလွှာတွင်ပါဝင်သော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကို တင်သွင်းထုတ်လုပ်မည်ဆိုပါက အထက်အပိုဒ် (၂) နှင့် (၃) ပါ ဖော်ပြချက်များအား လိုက်နာဆောင်ရွက်သင့်ကြောင်းနှင့် လိုက်နာဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

20.9.18

ဒေါက်တာစိုးနိုင်
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို
စက်မှုဝန်ကြီးဌာန
ရုံးလက်ခံ
မျှောစာတွဲ

Annex - G

Myanmar Sinochem Industry Co.,Ltd

Annual Raw Material to be imported and Norm (Matric Ton)

| Product | No. | Raw Material | Unit | Norm Q'ty (MT) | Year -1 | Year -2 | Year -3 | Year -4 | Year -5 to Year-7 |
|---|---|---|---|---|---|---|---|---|---|
| 214- sulfonyl chloride (Photosenstive Power) | 1 | Neville and Winter's acid | MT | 2.60 | 130 | 156 | 208 | 260 | 312 |
| | 2 | Sodium Hydroxide | MT | 2.50 | 125 | 150 | 200 | 250 | 300 |
| | 3 | Sodium Nitrite | MT | 1.60 | 80 | 96 | 128 | 160 | 192 |
| | 4 | Hydrochloric Acid | MT | 25.00 | 1,250 | 1,500 | 2,000 | 2,500 | 3,000 |
| | 5 | Sodium Hydrosulfite | MT | 4.00 | 200 | 240 | 320 | 400 | 480 |
| | 6 | Copper II Sulfate Pentahydrate | MT | 0.22 | 11 | 13 | 18 | 22 | 26 |
| | 7 | Thionyl Chloride | MT | 2.00 | 100 | 120 | 160 | 200 | 240 |
| | 8 | Chlorosufonic Acid | MT | 3.60 | 180 | 216 | 288 | 360 | 432 |
| | 9 | Phosphorus Trichloride | MT | 0.04 | 2 | 2 | 3 | 4 | 4 |
| | 10 | Acetone | MT | 2.00 | 100 | 120 | 160 | 200 | 240 |
| | 11 | Petroleum Ether | MT | 0.60 | 30 | 36 | 48 | 60 | 72 |
| | 12 | Ethyl Alcohol Absolute | MT | 2.00 | 100 | 120 | 160 | 200 | 240 |
| | | | | | | | | | |

zhang cheng fang

Mr. Zhang Cheng Fang
Managing Director
Myanmar Sinochem Industry Co., Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**
မြေကွက်အမှတ် ၄၉၊ စိမ်းလဲ့မေ လမ်းသွယ်၊
ကမ္ဘာအေးဘုရားလမ်း၊ ၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ ၀၁-၆၅၈၂၆၃
🖷 ၀၁-၆၅၈၂၆၄

စာအမှတ်၊ရကတ/ရနမ-၂ /၂၀၁၈ ( ၅၂၀ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၁၇ ရက်

သို့

ဥက္ကဋ္ဌ
ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများအန္တရာယ်မှတားဆီးကာကွယ်ရေးဗဟိုအဖွဲ့
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အပေါ် သဘောထား ပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ Myanmar Sinochem Industry Co.,Ltd ၏ ၁၂-၉-၂၀၁၈ ရက်စွဲပါ စာ

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Co.,Ltd မှ မြေကွက်အမှတ် (၁၂၆) ၊ မြေတိုင်းရပ်ကွက်အမှတ် စက်မှုဇုန် ၊ ဒဂုံမြို့သစ်ဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် 214-Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း ရည်ညွှန်းပါစာဖြင့် တင်ပြလာပါ သည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ -၇၁ အရ အတည်ပြုလွှာ အား လက်ခံခြင်း၊ ငြင်းပယ်ခြင်းကို အလုပ်လုပ်ရက် ၁၅ ရက်အတွင်း ရင်းနှီးမြှုပ်နှံသူ ထံသို့ ပြန်ကြားရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ -၇၂(ခ)အရ အတည်ပြုလွှာအား လက်ခံသည့် နေ့ရက်မှ ရက်ပေါင်း ၃၀ အတွင်း အတည်ပြုမိန့် ထုတ်ပေးရန်ဖြစ်ပါ၍ ပူးတွဲပါ အတည်ပြုလွှာတွင် ပါဝင်သော တင်သွင်းထုတ်လုပ်မည့် ဓာတုဆက်စပ်ပစ္စည်းများနှင့် ပတ်သက်ပြီး သဘောထား **ဆောလျင်စွာ** ပြန်ကြားပေးနိုင်ပါရန် ပေးပို့အပ်ပါသည်။

၃။ Myanmar Sinochem Industry Co.,Ltd နှင့် စပ်လျဉ်း၍ ဆက်သွယ်ဆောင်ရွက်ရမည့် ပုဂ္ဂိုလ် မှာ ဒေါ်ပန်းအိမြူ ဖုန်းနံပါတ် ၀၉-၂၀၂၉၄၉၄၊ ၀၉-၉၇၈၇၉၆၀၉၅ ဖြစ်ပါသည်။

**ပူးတွဲ-အတည်ပြုလျှောက်ထားလွှာ (၁) စုံ**

မျိုးခိုင်ဦး၊ အတွင်းရေးမှူး

မိတ္တူကို
Myanmar Sinochem Industry Co.,Ltd
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး
မြေကွက်အမှတ် ၄၉၊ စိမ်းလဲ့မေလမ်းသွယ်၊
ကမ္ဘာအေးဘုရားလမ်း ၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး
စာအမှတ်၊ ရကတ / ရနမ /၂၀၁၈ ( ၅၆၆ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ၊ အောက်တိုဘာလ ၅ ရက်

သို့

ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

M.956
8/10/18

အကြောင်းအရာ။ **အတည်ပြုလျှောက်ထားလွှာ လွှဲပြောင်းပေးခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) Myanmar Sinochem Industry Co.,Ltd ၏ ၁၂-၉-၂၀၁၈ ရက်စွဲပါစာ

(၂) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ တိုင်းဒေသကြီး ညွှန်ကြားရေးမှူးရုံး၊ ရန်ကုန်တိုင်းဒေသကြီး၏ ၁-၁၀-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ရက-၁/၃-၄ (အီးအိုင်အေ)(၁၃၀၄/၂၀၁၈)

(၃) စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန၏ ၂၀-၉-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၁၅၀၁(၁)/စမရ(၄)/၂၀၁၈(၆၀၄)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Co.,Ltd မှ မြေကွက်အမှတ် (၁၂၆)၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်ဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးတွင် 214-Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာခြင်းအပေါ် ပတ်ဝန်း ကျင် ထိန်းသိမ်းရေး ဦးစီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ အတည်ပြုလျှောက်ထားလွှာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ ရည်ညွှန်း(၂) ပါစာဖြင့် အောက်ပါအတိုင်း သုံးသပ်ချက်ဖြင့် အကြောင်းကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းတွင် အဓိကအသုံးပြုမည့် Hydrochloric Acid နှင့် အခြားသော ဓာတုပစ္စည်းများသည် ဘေးအန္တရာယ်ရှိ ဓာတုပစ္စည်းဖြစ်ပါသဖြင့် လေထု၊ရေထု၊မြေထုထဲသို့ ရောက်ရှိပါက လူသားများ၊အပင်များ၊တိရစ္ဆာန်များနှင့်ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်ခြင်း ။

(ခ) လုပ်ငန်းလည်ပတ်ခြင်းအဆင့်ဆင့်မှ ထွက်ရှိလာသော ဓာတ်ငွေ့များနှင့်စွန့်ပစ်ရေဆိုးများသည် ပတ်ဝန်းကျင်နှင့်စီမံကိန်းစက်ရုံဧရိယာအနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးအားထိခိုက်မှု ဖြစ်စေနိုင်ခြင်း။

(ဂ) အဆိုပါလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်နေသော လုပ်ငန်းခွင်အတွင်းမှ အလုပ်သမားအနေဖြင့် အဆိုပါဘေးအန္တရာယ်ရှိ ဓာတုပစ္စည်းများအမြဲထိတွေ့နေရမည်ဖြစ်သောကြောင့် ရေရှည်တွင် မျက်စိ၊အရေပြား၊အမြေးပါးများ ထိခိုက်စေနိုင်ခြင်းနှင့်၎င်းတို့ကို ရှူရှိုက်မိခြင်းကြောင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများ၊အဆုတ်နှင့်ဆိုင်သော ရောဂါများ ဖြစ်ပေါ်စေနိုင်ခြင်း။

(ဃ) လုပ်ငန်းလည်ပတ်ခြင်းမှထွက်ရှိလာသည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပြီး စီမံကိန်းစက်ရုံဧရိယာအနီးတဝိုက်ရှိပြည်သူများ၏ ကျန်းမာရေးထိခိုက်မှုဖြစ်စေနိုင်ခြင်း။

(င) 214-Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်း နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ်(၄၉)၊ (၆၃)တို့နှင့်အညီ ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထား မှတ်ချက်အရ လုပ်ငန်းသည် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး(သို့) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ အရ အတည်ပြု လျှောက်ထားလွှာအား ရည်ညွှန်း(၂)နှင့်(၃)ပါ စာတို့ဖြင့် ပူးတွဲလွှဲပြောင်းပေးပို့အပ်ပါသည်။

ပူးတွဲ။ (၁) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ တိုင်းဒေသကြီး ညွှန်ကြားရေးမှူးရုံး၊ ရန်ကုန်တိုင်းဒေသကြီး မှ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားပြန်ကြားစာ။

(၂) စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာနမှ ရည်ညွှန်း(၃)ပါစာဖြင့် သဘောထားပြန်ကြားစာ။

မျိုးခိုင်ဦး
တိုင်းဦးစီးမှူး

မိတ္တူကို

ဒုတိယညွှန်ကြားရေးမှူးချုပ် - ၃
Myanmar Sinochem Industry Co.,Ltd
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

မြေကွက်အမှတ် ၄၉၊ စိမ်းလဲ့မေ လမ်းသွယ်၊ ကမ္ဘာအေး

ဘုရားလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ ၀၁-၆၅၈၂၆၃
🖷 ၀၁-၆၅၈၂၆၄

စာအမှတ်၊ရကတ/ရနမ-၂ /၂၀၁၈ ( ၅၆၅ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၅ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ရေးဆွဲဆောင်ရွက်ရန် နှင့် စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာနမှ သဘောထားပြန်ကြားစာအား အကြောင်းကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ တိုင်းဒေသကြီး ညွှန်ကြားရေးမှူးရုံး၊ ရန်ကုန်တိုင်းဒေသကြီး၏ ၁-၁၀-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ရက-၁/၃-၄ (အီးအိုင်အေ)(၁၃၀၄/၂၀၁၈)

(၂) စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန၏ ၂၀-၉-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၁၅၀၁(၁)/စမရ(၄)/၂၀၁၈(၆၀၄)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Sinochem Industry Co.,Ltd မှ မြေကွက်အမှတ် (၁၂၆)၊ စက်မှုဇုန် ၊ ဒဂုံမြို့သစ်ဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးတွင် 214-Sulfonyl Chloride (Photosenstive Power) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ တိုင်းဒေသကြီး ညွှန်ကြားရေးမှူးရုံး၊ ရန်ကုန်တိုင်းဒေသကြီးအဖွဲ့သို့ သဘောထားတောင်းခံခဲ့ရာ ရည်ညွှန်း(၁)ပါစာဖြင့် Myanmar Sinochem Industry Co.,Ltd အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment -EIA)ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃)တို့နှင့်အညီ ရေးဆွဲရန် နှင့် ရည်ညွှန်း(၂)ပါ စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာနမှ သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar Sinochem Industry Co.,Ltd အနေဖြင့် အထက်အပိုဒ်(၁)ပါ သဘောထားပြန်ကြားစာများအား လိုက်နာဆောင်ရွက်ရန် အကြောင်းကြားပါသည်။

(မျိုးခိုင်ဦး၊အတွင်းရေးမှူး)

Myanmar Sinochem Industry Co.,Ltd

မိတ္တူကို

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂)၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

# MYANMAR SINOCHEM INDUSTRY COMPANY LIMITED

**(Company Registration No.103348056)**

## 214-Sulfonly Chloride

## (Photosenstive Powder)

**Date: 11.09.2018**

Myanmar Sinochem Industry Co., Ltd.
No.
Date

# MYANMAR SINOCHEM INDUSTRY CO.,LTD

NO-120, SAKE KAN THAR STREET, DAGON SAKE KAN INDUSTRIAL ZONE, DAGON SAKE KAN TOWNSHIP, YANGON, MYANMAR.

PHONE: 09-254775123, Email: zhangcfssss@163.com

## 214-sulfonyl chloride အသုံးပြုပုံ

214-sulfonyl chloride ကို Photo senstive powder ဟုလည်းခေါ်ဝေါ်သည်။ ဤကုန်ပစ္စည်းကို အကြီးစား Printing လုပ်ငန်းတွင်းလည်းကောင်း၊ Copier, Printer စက်များတွင်လည်းကောင်း၊ Printing နှင့် Copying လုပ်ဆောင်ချိန်တွင် အလင်းတန်းထွက်လာစေပြီး မိမိလုပ်ဆောင်ချင်သော Printing နှင့် Copying ကိစ္စကိုပြီးမြောက် အောင်ဆောင်ရွက်ပေးနိုင်သော အမှုန့်တစ်မျိုးဖြစ်ပါသည်။

Zhang Cheng fang

လေးစားစွာဖြင့်

Mr. Zhang Cheng Fang
Managing Director
Myanmar Sinochem Industry Co., Ltd.

# အဆိုပြုချက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊

ရက်စွဲ ၊ ၂၀၁၈ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် Mr.Zheng Chang Fang

(ခ) အဖအမည်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/
နိုင်ငံကူးလက်မှတ်အမှတ် E65730958

(ဃ) နိုင်ငံသား China

(င) နေရပ်လိပ်စာ No.9,Xinglong pu Street,Huiji Tsp,Zhengzhou City,Henan Province,China.

(၁) ပြည်တွင်း

(၂) ပြည်ပ

(စ) တယ်လီဖုန်း /ဖက်စ် 0086-18137275692

(ဆ) အီးမေးလ်လိပ်စာ zhangcfssss@163.com

(ဇ) ပင်မကုမ္ပဏီအမည် Myanmar Sinochem Industry Co., Ltd

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်-၁၂၆၊ဆိပ်ကမ်းသာလမ်း၊ဒဂုံဆိပ်ကမ်းစက်မှုဇုန်၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

(ည) လုပ်ငန်းအမျိုးအစား 214-Sulfonly Chloride (Photosenstive Pow der)

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ..........

(ခ) အဖအမည် ..........

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ..........
နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ..........

(င) နေရပ်လိပ်စာ ..........

(၁) ပြည်တွင်း ..........

(၂) ပြည်ပ ..........

(စ) ပင်မကုမ္ပဏီအမည် ..........

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ..........

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ..... ဒေါ်ပန်းအိမြူ .....

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..... ဒေါ်ပန်းအိမြူ .....
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..... ၁/မညန(နိုင်)၁၂၂၉၇၀ .....

(ဃ) နိုင်ငံသား ..... မြန်မာ .....

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် နေရပ်လိပ်စာ အမှတ်-၇၃စီ၊မြကန်သာကွန်ဒို၊မြကန်သာ(၄)လမ်း၊လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊

(စ) တယ်လီဖုန်း /ဖက်စ် 09-2029494

(ဆ) အီးမေးလ်လိပ်စာ paneiphyunicole@gmail.com

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား 214-Sulfonly Chloride (Photosenstive Pow der)

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☐ ရာနိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| 1. | Mr.Zhang Cheng Fang | China | 55% |
| 2. | Mr.Zhang Cheng Biao | China | 30% |
| 3. | Mrs.Li Jinchun | China | 15% |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း အမေရိကန်ဒေါ်လာ-၃၀၀,၀၀၀/-

(ခ) အစုရှယ်ယာအမျိုးအစား မူလအစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ အစု-၃၀,၀၀၀

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ -

ကျပ်/US$(သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ..........

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း 2.8098 (Million)

စုစုပေါင်း 2.8098 (Million)

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ ..........

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ USD-0.309 (MILLION)

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ၇-နှစ်

(စ) ရင်းနှီးမြှုပ်မှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ၈-လ

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း -

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | 2.600 | 3900 |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | 0.1275 | 191.25 |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်၊ မူပိုင်ခွင့် စသည့် အသိဉာဏ် | Nil | Nil |

ဆိုင်ရာပစ္စည်းများကိုတန်ဖိုး ဖြတ်နိုင်သောအခွင့်အရေးများ၏ တန်ဖိုးပမာဏ

| | | | |
|---|---|---|---|
| (င) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | Nil | |
| (စ) | အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) | 0.0823 | 123.45 |
| | စုစုပေါင်း | 2.8098 | 4214.7 |

မှတ်ချက်။ အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | ကျပ်(သန်းပေါင်း) |
|---|---|
| (က) ငွေပမာဏ | |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | |
| (ဂ) မြေ/ အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | |
| (ဆ) အခြား | |
| စုစုပေါင်း | |

၁၁။ ဈေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ -

☐ ပြည်တွင်းဈေးငွေ ........................................ ကျပ်

........................................ အမေရိကန်ဒေါ်လာ

☐ ပြည်ပဈေးငွေ ........................................ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ အမှတ်-၁၂၆၊ဆိပ်ကမ်းသာလမ်း ဒဂုံဆိပ်ကမ်းစက်မှုဇုန်၊ဒဂုံဆိပ်ကမ်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး၊

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ ဒဂုံဆိပ်ကမ်း

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် (60 x 240)(RC),(110 x 300)

(၃) လက်ရှိပိုင်ဆိုင်သူ ဦးသိန်းထွန်း

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ........................................

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ၉/ခအဇ(နိုင်)၀၀၀၂၃၁

(ဂဂ) နေရပ်လိပ်စာ အမှတ်-၁၈၊၂၀-လမ်း၊လသာမြို့နယ်၊ရန်ကုန်၊

(၄) မြေအမျိုးအစား စက်မှုမြေ

(၅) မြေငှားဂရန် ခွင့်ပြုကာလ ၆၀-နှစ်

(၆) ငှားရမ်းမည့်ကာလ 9-9-2018 မှ 9-9-2025 ထိ ( 7 )နှစ်

(၇) ငှားရမ်းခနှုန်းထား USD-27916.24

(ကက) မြေ စက်မှုမြေ

(ခခ) အဆောက်အအုံ (73.15m X 18.28m) (2 Storey)

(၈) ရပ်ကွက် ........................................

(၉) မြို့နယ် ဒဂုံဆိပ်ကမ်းမြို့နယ်

(၁၀) ပြည်နယ်/တိုင်းဒေသကြီး ရန်ကုန်တိုင်းဒေသကြီး

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် Mr.Zhang Cheng Fang

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန Myanmar Sinochem Industry Co., Ltd

(ခခ) အဖအမည် ........................................

(ဂဂ) နိုင်ငံသား China

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ E95730958

နိုင်ငံသားစိစစ်ရေးကတ်အမှတ်

(cc) နေရပ်လိပ်စာ No.9,Xing Long pu Street,Huiji Tsp,Zhengzhou City, Henan Province,China.

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် ...

(၂) အကျယ်အဝန်း ...

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု Annex-I

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် Annex-K

(စ) နှစ်စဉ် ရေလိုအပ်ချက် Annex-K

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် ...

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ...

(ဂ) ဘဏ်စာရင်းအမှတ် ...

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | 5 | 2 | 7 |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | 6 | | 6 |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | 3 | 5 | 8 |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | 3 | 5 | 8 |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | 15 | | 15 |
| (ဆ) | အခြေခံလုပ်သား | 3 | | 3 |
| | စုစုပေါင်း | 35 | 12 | 47 |

မှတ်ချက်။ အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းမှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်းရှိ/မရှိဖော်ပြရန် -

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှောက်ထားသူလက်မှတ် Zhang cheng fang

အမည် ............................

ရာထူး ............................

ဌာန/ကုမ္ပဏီတံဆိပ် Mr. Zhang Cheng Fang
Managing Director
Myanmar Sinochem Industry Co., Ltd.

ရက်စွဲ -

## အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်(နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာ ပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ၏ ၁၀ % နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏ -

(၁) အမည် Mr.Zhong Cheng Fang

(၂) ဆက်သွယ်ရမည့်လိပ်စာ အမှတ်-၁၂၆၊ဆိပ်ကမ်းသာလမ်း၊ဒဂုံဆိပ်ကမ်းစက်မှုဇုန်၊ဒဂုံဆိပ်ကမ်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး၊

(၃) မှတ်ပုံတင်အမှတ် E-65730958

(တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင်တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) ----------------------------------------

(၂) ----------------------------------------

(၃) ----------------------------------------

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ အမှတ်-၁၂၆၊ဆိပ်ကမ်းသာလမ်း၊ဒဂုံဆိပ်ကမ်းစက်မှုဇုန်၊ဒဂုံဆိပ်ကမ်းမြို့နယ်၊ရန်ကုန်မြို့။

----------------------------------------

----------------------------------------

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် 214-Sulfonly Chloride (Photosenstive Powder)

----------------------------------------

----------------------------------------

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်)

USD-2.8098 (Million)

Ks-4214.7 (Million)

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ(နှစ်၊လတို့ဖြင့်ဖော်ပြရန်) ---- ၈-လ ----

(ခ) စီးပွားဖြစ်စတင်မည့်ကာလ (နှစ်၊လတို့ဖြင့်ဖော်ပြရန်) ----------------

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ -

(က) ပြည်တွင်း ---- 35 ----

(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) ---- 12 ----

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှုပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင် လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန်(မြန်မာကျပ် နှင့် အမေရိကန် ဒေါ်လာ တို့ဖြင့်ဖော်ပြရန်) -

(က) ငွေသားဖြင့်ယူဆောင်မှုပမာဏ ---- USD-0.1 (Million) / KS-150 (Million) ----

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ ---- USD-2.6275(Million) ----

**မှတ်ချက်။** ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်း အချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်း ဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်းအာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာ သဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ........ Zhang cheng fang

ရာထူး ........

ဌာန/ကုမ္ပဏီတံဆိပ် ........ Mr. Zhang Cheng Fang
Managing Director
Myanmar Sinochem Industry Co., Ltc

Form (2)

# Proposal Form

To,

**Chairman**

**Myanmar Investment Commission**

Reference No.

Date.

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Section 36 of the Myanmar Investment Law by furnishing the following particulars:-

1. The Investor's:-

(a) Name MR.ZHANG CHENG FANG

(b) Father's name

(c) ID No./National Registration Card No./Passport No. E65730958

(d) Citizenship CHINA

(e) Address: NO.9,XING LONG PU STREET,HUIJI TSP,ZHENGZHOU CITY,HENAN PROVINCE,CHINA

(i) Address in Myanmar

(ii) Residence abroad

(f) Phone /Fax 0086-18137275692

(g) E -mail address zhangcfssss@163.com

(h) Name of principle organization MYANMAR SINOCHEM INDUSTRY CO., LTD

(i) Type of Business 214-sulfonly chloride (Photosenstive Pow der)

(j) Principle company's address: NO.(126),Seikkanthar Street,Dagon Seikkan Industrial Zone, Dagon Seikkan Tsp,Yangon.

2. If the investment business is formed under Joint Venture, partners':-

(a) Name

(b) Father's name

(c) ID No./ National Registration Card No./Passport No.

(d) Citizenship

(e) Address: ..........

(i) Address in Myanmar ..........

(ii) Residence abroad ..........

(f) Parent company ..........

(g) Parent company's address ..........

**Note:** The following documents need to be attached according to the above paragraph (1) and (2):-

(1) Company registration certificate (copy);

(2) National Registration Card (copy) and passport (copy);

(3) Evidences about the business and financial conditions of the participants of the proposed investment business;

3. If the investor don't apply for permission to make investment by himself/herself, the applicant;

(a) Name Daw Pan Ei Phyu

(b) Name of Contact Person Daw Pan Ei Phyu

(if applicant is business organization)

Remark: To submit the official letter of legal representative as attachment

(c) ID No./ National Registration Card No./Passport No. 1/Ma Nya Na (N) 122970

(d) Citizenship Myanmar

(e) Address in Myanmar : No.73/C,Room.401,Mya Kan Thar Condo,Mya Kan Thar (4) Street,Hlaing Tsp,Yangon.

(f) Phone / Fax : 09-2029494

(g) E-mail : paneiphyunicole@gmail.com

4. Type of proposed investment business:- 214-Sulfonly Chloride (Photosenstive Pow der)

5. Type of business organization to be formed:-

☐ One Hundred Percent ☐ Joint Venture ( To attach the draft of JV agreement)

☐ Type of Contractual basis (To attach contract (agreement) draft)

6. List of shareholders

| No | Name of Shareholder | Citizenship | Share Percentage |
|---|---|---|---|
| 1 | Mr.Zhang Cheng Fang | China | 55% |
| 2. | Mr.Zhang Cheng Biao | China | 30% |
| 3. | Mrs Li Jinchun | | 15% |

